# ကန့်သတ်

ကုမ္ပဏီအမည် - Swel Hein Group Company Limited (ဆွယ်ဟိန်းအုပ်စု ကုမ္ပဏီ လီမိတက်)

လုပ်ငန်း - အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၁၁-၁၁-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) စက်မှုဝန်ကြီးဌာန | ၁၈-၁၁-၂၀၁၅ | ၃-၁၂-၂၀၁၅ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန (ယခင် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၈-၁၁-၂၀၁၅<br>၁၆-၁၂-၂၀၁၅ | ၅-၁-၂၀၁၆ | |
| | (ဂ) ရှမ်းပြည်နယ်အစိုးရအဖွဲ့ | ၁၈-၁၁-၂၀၁၅<br>၁၆-၁၂-၂၀၁၅<br>၆-၁-၂၀၁၆<br>၁၇-၂-၂၀၁၆ | ၂၅-၂-၂၀၁၆ | လုပ်ငန်းဆောင်ရွက်မည့် နေရာ၏ ပိုင်ဆိုင်မှု အထောက်အထားအဖြစ် စက်မှုမြေငှားဂရန် ရရှိရေး ဆောင်ရွက်ဆဲ ဖြစ်ပါကြောင်း ရှမ်းပြည်နယ် အစိုးရအဖွဲ့မှ (၂၅-၂-၁၆) ရက်စွဲပါစာဖြင့် ကော်မရှင်သို့ အကြောင်းပြန်ကြားလာပါသည်။ |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၄၂/၂၀၁၅) သို့ တင်ပြခြင်း | ၁၆-၁၁-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၃-၁၁-၂၀၁၅ | | |
| ၅ | အဆိုပြုချက်ပြန်လည်ပေးပို့ခြင်း | ၁၇-၂-၂၀၁၆ | | ကုမ္ပဏီမှ အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက်အရ ပြည့်ပမှ တင်သွင်းမည့် စက်ပစ္စည်း စာရင်း တင်ပြလာမှုမရှိခြင်း၊ ရှမ်းပြည်နယ်အစိုးရအဖွဲ့မှ သဘောထားပြန်ကြားလာမှု မရှိခြင်း၊ အဆိုပြုလွှာမှာ ရက်ပေါင်း (၉၀)ကျော်လွန်နေခြင်းတို့ကြောင့် အဆိုပြုချက်အား ပြန်လည် ပေးပို့ခဲ့ပါသည်။ |
| | စုစုပေါင်းကြာမြင့်ချိန် | ၉၉ ရက် | | |

ကန့်သတ်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
| --- | --- | --- | --- | --- |
| ၁ | ကုမ္ပဏီမှ အဆိုပြု တင်ပြထားသည့် မြေနေရာအား သစ်အချောထည် စက်ရုံ တည်ဆောက်ရန်အတွက် လယ်မြေမှ တစ်ပါး လယ်ယာမြေအား အခြားနည်း ဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်နှင့်အတူ အဆိုပြုလွှာအား ပြန်လည် တင်ပြလာခြင်း | ၈-၈-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း<br>(က) ရှမ်းပြည်နယ်အစိုးရအဖွဲ့ | ၁၁-၈-၂၀၁၆<br>၂၉-၈-၂၀၁၆<br>၂၀-၉-၂၀၁၆ | ၃၀-၉-၂၀၁၆ | |
| ၃ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၁၀)စုံ လက်ခံရရှိခြင်း | ၁၄-၁၀-၂၀၁၆ | | |
| ၄ | MIC အစည်းအဝေးသို့ တင်ပြခြင်း | ၂၀/၂၀၁၆<br>(၂၈-၁၀-၂၀၁၆) | | |
| ၅ | **စုစုပေါင်း ကြာမြင့်ရက်** | **(၈၀) ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Swel Hein Group Company Limited (ဆွယ်ဟိန်းအုပ်စု ကုမ္ပဏီ လီမိတက်) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ လားရှိုးခရိုင်၊ လားရှိုးမြို့နယ်၊ နားကွမ်းကျေးရွာအုပ်စု၊ ကွင်းအမှတ်- ကွင်းပြင်၊ ဦးပိုင်ဝိုင်း(၁)၊ သုသာန်ကွင်း၊ ဦးပိုင်အမှတ်(၂)ရှိ မြေ (၃.၇၅)ဧက |
| စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၆၄၀.၀၀ သန်း(အမေရိကန်ဒေါ်လာ ၀.၂၄၇ သန်း အပါအဝင်) |
| လုပ်ငန်းသက်တမ်း | - ကနဦး ၂၀ နှစ် |
| အရင်းကြေကာလ | - ၈ နှစ် ၁ လ |
| IRR | - ၁၀.၆၈% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀.၀၂၅ | - |
| ၄ | ဝင်ငွေခွန် | ၇၆.၂၄၉ | ၈၀.၀၈၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ၇၇၉.၆၇၇ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၄၉.၂၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၂.၁၇၉ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၉၈ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၇၈.၄၃၄ | ၉၁၁.၈၀၁ |
| ၁၁ | Cost : Benefit | ၁ : ၁၁ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Swel Hein Group Company Limited အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Swel Hein Group Company Limited |
| | ကမကထပြုသူ | - ဦးအောင်ဆန်းညွန့် (အဘ-ဦးအိုက်လုံ) (မန်နေဂျင်းဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေး နှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ လားရှိုးခရိုင်၊ လားရှိုးမြို့နယ်၊ နားကွမ်းကျေးရွာအုပ်စု၊ ကွင်းအမှတ်- ကွင်းပြင်၊ ဦးပိုင် ဝိုင်း(၁)၊ သုသာန်ကွင်း၊ ဦးပိုင်အမှတ်(၂) |
| | မြေပိုင်ရှင် | - Swel Hein Group Company Limited |
| | မြေအကျယ်အဝန်း | - မြေဧရိယာ (၃.၇၅)ဧက (၁၅၁၇၅.၇၃ စတုရန်းမီတာ) |
| ၃။ | လုပ်ငန်းသက်တမ်း | - ကနဦး ၂၀ နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - **ကျပ် ၆၄၀.၀၀ သန်း(အမေရိကန်ဒေါ်လာ ၀.၂၄၇ သန်း အပါအဝင်)** |
| | - ငွေသား | - ကျပ် ၁၀၅.၂၉ သန်း |
| | - စက်ပစ္စည်းများ | - ကျပ် ၂၉၅.၈၉ သန်း(အမေရိကန်ဒေါ်လာ ၀.၂၄၇ သန်း) |
| | - အဆောက်အအုံများ | - ကျပ် ၁၈၅.၀၀ သန်း |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | - ကျပ် ၃.၈၂ သန်း |
| | - မြေ | - ကျပ် ၅၀.၀၀ သန်း |

| | | |
|---|---|---|
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | - စက်ပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | - ၉၈ ဦး |
| | ပြည်တွင်း | - ၉၈ ဦး<br>(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါ သည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၅၀% နှင့် ပြည်ပ ၅၀% |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - ကျပ် ၁၇၃၇.၀၉ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၆၈၉.၀၄ သန်း |
| | အသားတင်အမြတ် | - ကျပ် ၄၈.၀၅ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - ကျပ် ၁၆.၀၂ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၄၃၅.၈၅ သန်း |
| | အရင်းကြေကာလ | - ၈ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၀.၆၈% |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၂၄၀၀၀၀ kWh |

၁၂။ နှစ်စဉ်ထုတ်လုပ်မှု(ဆဋ္ဌမမြောက်နှစ်)

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Cu.M) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်) | ပြည်ပ ( US$) |
| Four Side Plan | ၄၀၅ | - | ၁၀၃၀၃၀၀ | - |
| Door and Window | ၁၂၁.၅ | ၁၂၁.၅ | ၁၅၂၉၃၅၃ | ၁၂၈၈ |
| Furniture | ၈၁ | ၈၁ | ၁၅၂၉၃၅၃ | ၁၂၈၈ |
| Parquet | ၂၈၃.၅ | ၂၈၃.၅ | ၁၂၂၃၄၈၂ | ၁၀၃၀ |

၁၃။ CSR

- လူမှုဘဝ သဘာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility)အတွက် လုပ်ငန်းမှ နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ မီးဘေးကြိုတင်ကာကွယ်ရေး

- မီးဘေးကာကွယ်ရေးစီမံချက် ရေးဆွဲတင်ပြထားပါသည်။

၁၅။ **အခြားတင်ပြချက်**

- မြေအထောက်အထားအဖြစ် ရှမ်းပြည်နယ်အစိုးရအဖွဲ့မှ Swel Hein Group Company Limited အမည်ဖြင့် လယ်မြေမှ တစ်ပါး လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် တင်ပြထားပါသည်။
- ကုမ္ပဏီမှ အဆိုပြုတင်ပြထားသည့် မြေအား ရင်းနှီးမြှုပ်နှံမှုတွင် ထည့်ဝင်၍ သစ်အချောထည်လုပ်ငန်း ဆောင်ရွက်ရာတွင် အသုံးပြုရန် ဒါရိုက်တာအားလုံးမှ သဘောတူကြောင်း ဒါရိုက်တာအဖွဲ့ အစည်းအဝေး မှတ်တမ်းအား တင်ပြထားပါသည်။
- သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန(ယခင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန) သစ်တောဦးစီးဌာနမှ ပုဂ္ဂလိကသစ်မာစိုက်ခင်းဧက (၈၀၀) တည်ထောင်ခွင့်လျှောက်ထားခြင်းနှင့်ပတ်သက်၍ အိတ်ဖွင့် တင်ဒါစနစ်ဖြင့် ဆောင်ရွက်သည့်အခါမှသာ ယှဉ်ပြိုင် ဆောင်ရွက်ပါရန် ကုမ္ပဏီသို့ အကြောင်းကြားစာ တင်ပြထားပါသည်။

| | | |
|---|---|---|
| ၁၆။ | **စိစစ်တင်ပြချက်** | - ကုမ္ပဏီမှ ပုဂ္ဂလိက ကျွန်းစိုက်ခင်း (၂၀၀)ဧက နှင့် သစ်မာ စိုက်ခင်း(၈၀၀)ဧက စိုက်ပျိုးတည်ထောင်မည့် လုပ်ငန်း စီမံချက် တင်ပြထားပါသည်။<br>- ကျပ်ငွေ အထောက်အထားအဖြစ် ဦးအောင်ဆန်းညွန့် အမည်ဖြင့် KBZ ဘဏ်၌ ၂၆-၇-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၉၉,၉၆၁,၃၅၃.၆၉ ရှိကြောင်း တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ည၊ ဋ)အရ အခွန် အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များ ကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ မ-၂၂၆/၂၀၁၅( ၇၆၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၈ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်

## အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Swel Hein Group Company Limited အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Swel Hein Group Company Limited (ဆွယ်ဟိန်းအုပ်စု ကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ လားရှိုးခရိုင်၊ လားရှိုးမြို့နယ်၊ နားကွမ်းကျေးရွာအုပ်စု၊ ကွင်းအမှတ်- ကွင်းပြင်၊ ဦးပိုင်ဝိုင်း(၁)၊ သုဿန်ကွင်း၊ ဦးပိုင်အမှတ်(၂)ရှိ မြေ(၃.၇၅)ဧကတွင် အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်ဆန်းညွန့် (အဘ-ဦးအိုက်လုံ)မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။ အဆိုပါ အဆိုပြုလွှာကို ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၄၂/၂၀၁၅ အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ကုမ္ပဏီအမည်ပေါက် ရရှိထားသည့် မြေကို ရင်းနှီးမြှုပ်နှံမှုတွင် ထည့်ဝင်ထားခြင်း ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၂၄၇ သန်း အပါအဝင် စုစုပေါင်း ကျပ် ၆၄၀.၀၀ သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ အမေရိကန်ဒေါ်လာ ၀.၂၄၇ သန်းကို ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

(က) ငွေသား - ကျပ် ၁၀၅.၂၉ သန်း

(ခ) စက်ပစ္စည်းများ - ကျပ် ၂၉၅.၈၉ သန်း (အမေရိကန်ဒေါ်လာ ၀.၂၄၇ သန်း)

(ဂ) အဆောက်အအုံများ - ကျပ် ၁၈၅.၀၀ သန်း

(ဃ) ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ - ကျပ် ၃.၈၂ သန်း

(င) မြေ - ကျပ် ၅၀.၀၀ သန်း

**စုစုပေါင်းမတည်ငွေရင်း - ကျပ် ၆၄၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၀.၂၄၇ သန်း အပါအဝင်)**

၄။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၉၈)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါ သည်။

၅။ အဆိုပြုလုပ်ငန်းမှ Four Side Plane ကို ပြည်တွင်း ၁၀၀% ရောင်းချမည်ဖြစ်ပြီး Door and Window, Furniture နှင့် Parquet များကို ပြည်တွင်း ၅၀% နှင့် ပြည်ပ ၅၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက်(Cu.M) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်) | ပြည်ပ (US$) |
| Four Side Plane | ၄၀၅ | - | ၁၀၃၀၃၀၀ | - |
| Door and Window | ၁၂၀.၅ | ၁၂၀.၅ | ၁၅၂၉၃၅၃ | ၁၂၈၈ |
| Furniture | ၈၁ | ၈၁ | ၁၅၂၉၃၅၃ | ၁၂၈၈ |
| Parquet | ၂၈၃.၅ | ၂၈၃.၅ | ၁၂၂၃၄၈၂ | ၁၀၃၀ |

၆။ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - ကျပ် ၁၇၃၇.၀၉ သန်း

(ခ) အသုံးစရိတ် - ကျပ် ၁၆၈၉.၀၄ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၄၈.၀၅ သန်း

၇။ နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ကုန်သွယ်လုပ်ငန်းခွန် - ကျပ် ၄၃၅.၈၅ သန်း

(ခ) ဝင်ငွေခွန် (၂၅%) - ကျပ် ၁၆.၀၂ သန်း

၈။ လုပ်ငန်း ၏ အရင်းကြေကာလမှာ ၈ နှစ် နှင့် ၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၀.၆၈ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရှမ်းပြည်နယ်အစိုးရအဖွဲ့ မှ** ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့် သို့မဟုတ် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါကြောင်း၊ မြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်းအပေါ် ဒေသခံပြည်သူများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ကိုင် ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန ( ယခင် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ တစ်ဖက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများ ရှောင်ရှားနိုင်ရန် လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်း စနစ် အသုံးပြုခြင်း၊ အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အသားတင် အမြတ်ငွေ၏ ၂% အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်း စိမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(၂) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ တင်ပြရန်၊

(၃) ဆောင်ရွက်ရန်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာ မည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင် သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်၊ **(နောက်ဆက်တွဲ- ခ)**

**[ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန မှ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထား ပါသည်။]**

(ဃ) **စက်မှုဝန်ကြီးဌာန**မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါ ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထား ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း

ဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ-ဂ)**

**[စက်မှုဝန်ကြီးဌာန ၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။]**

၁၀။ ငွေကြေးအထောက်အထားအဖြစ် ဦးအောင်ဆန်းညွန့် အမည်ဖြင့် KBZ ဘဏ်၌ ၂၆-၇-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၉၉,၉၆၁,၃၅၃.၆၉ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ အလုပ်သမားများ၏ လစာဝင်ငွေ တစ်နှစ်လျှင် ကျပ် ၄,၈၀၀,၀၀၀/- ကျော်ပါက ဝင်ငွေခွန်ကို တည်ဆဲဥပဒေအရ ဖြတ်တောက်၍ အခွန်ဌာနသို့ ပေးသွင်းမည်ဖြစ်ကြောင်း၊ လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိပါက ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် နှင့် မီးဘေးကြုံတင် ကာကွယ်ရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၂။ လျှပ်စစ်ဓာတ်အားကို ၂၄၀၀၀၀ kWh အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ည၊ ဋ)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Swel Hein Group Company Limited အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ



Swel Hein MIC memo.doc

MIC, 319/31.10



နောက်ဆက်တွဲ(က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ပြည်နယ်အစိုးရအဖွဲ့
## ရှမ်းပြည်နယ်

စာအမှတ်၊၁၁၁၀၂ / ၇ - ၂၀၆ / အစရ( ရှမ်း)

ရက် စွဲ ၊၂၀၁၆ခုနှစ်၊ စက်တင်ဘာလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၁.၇.၂၀၁၆ရက်စွဲပါစာအမှတ်၊ မရက -၅(အ)/မ-၀၁၉/၂၀၁၆(၃၇၇)

၁။ Swel Hein Group Company Limited (ဆွယ်ဟိန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် ရာနှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် လားရှိုးခရိုင်၊ လားရှိုးမြို့နယ်၊ နာကွမ်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(ကွင်းပြင်)၊ ဦးပိုင်ဝိုင်း(၁)၊ သုသန်ကွင်း၊ ဦးပိုင်အမှတ်(၂)၊ မြေ(၃.၇၅)ဧက တွင် အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့်ပရိဘောဂများထုတ်လုပ်ခြင်း နှင့် ပြည်တွင်း/ ပြည်ပဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Swel Hein Group Company Limited (ဆွယ်ဟိန်းအုပ်စုကုမ္ပဏီ လီမိတက်)မှအဆိုပြုတင်ပြလာခြင်းအပေါ် အောက်ပါအချက်များနှင့်ပတ်သက်၍ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာဟုတ်/မဟုတ်။

(င) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သုံးသပ်အကြံပြုချက်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ခရိုင်စီမံခန့်ခွဲမှုကော်မတီ၊ လားရှိုးမြို့မှ ၅.၉.၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၅/၉-၆(၅၆၉)/ဦး ၆ (အထဉ)ဖြင့် အောက်ပါအတိုင်း စိစစ်တင်ပြလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါကြောင်း၊

(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းအတွက် သုံးစွဲခြင်းအပေါ် ဒေသခံပြည်သူများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊

(ဃ) ဖော်ပြပါလုပ်ငန်းဆောင်ရွက်မည့် မြေနေရာဖြစ်ပါကြောင်း၊

၃။ သို့ဖြစ်ပါ၍ Swel Hein Group Company Limited (ဆွယ်ဟိန်းအုပ်စုကုမ္ပဏီလီမိတက်)သည် ရာနှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့်ပရိဘောဂများထုတ်လုပ်ခြင်းနှင့် ပြည်တွင်း/ ပြည်ပဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ ၂၇.၉.၂၀၁၆ရက်တွင် ကျင်းပပြုလုပ်သည့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပုံမှန်အစည်းအဝေး အမှတ်စဉ်(၃-၉/၂၀၁၆)ဆုံးဖြတ်ချက် အပိုဒ် ၅(ဖ)အရ ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်( ကိုယ်စား )
( စိုးညွန့်လွင်၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီး )

မိတ္တူကို

ရှမ်းပြည်နယ်ဒုတိယအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ လားရှိုးမြို့
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ လားရှိုးမြို့
လက်ခံစာတွဲ/မျှောစာတွဲ





နောက်ဆက်တွဲ(ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

IC. 1
5/1

OPF.002
4.1.2016

စာအမှတ် ၃(၂)/၁၆(ဃ)(၁)/( ၃၈၁၆ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၃၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/မ-၂၂၆/၂၀၁၅(၈၈၇)

၁။ Swel Hein Group Company Limited (ဆွယ်ဟိန်းအုပ်စု ကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ လားရှိုးခရိုင်၊ လားရှိုးမြို့နယ်၊ နာကွမ်းကျေးရွာအုပ်စု၊ ကွင်းအမှတ်- ကွင်းပြင်၊ ဦးပိုင်ဝိုင်း- (၁)၊ သုသာန်ကွင်း၊ ဦးပိုင်အမှတ်(၂)ရှိ မြေ(၃.၇၅)ဧကတွင် အရည်အသွေးမီ သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများထုတ်လုပ်ခြင်းနှင့် ပြည်တွင်း/ပြည်ပဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ဌာနဆိုင်ရာသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ တံခါး၊ ပါကေးနှင့်ပရိဘောဂများကဲ့သို့ တန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပတ်သက်၍စိစစ်ရာတွင် ဓါတုဗေဒပစ္စည်းများအား သုံးစွဲရန်လိုအပ်မည်ဖြစ်သဖြင့် အဆိုပါကုန်ကြမ်းပစ္စည်းများသိုလှောင်ခြင်း၊ သုံးစွဲခြင်းနှင့် လုပ်ငန်းအဆင့်ဆင့်မှ ထွက်ရှိလာမည့်စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်း၊ စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာမည့် ဆူညံသံများ၊ အမှုန်အမွှားများကြောင့် လေထုညစ်ညမ်းခြင်း၊ အသံညစ်ညမ်းခြင်းနှင့် စက်ရုံဧရိယာအနီးပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးထိခိုက်စေနိုင်ခြင်း၊ သစ်လုံးခွဲစိတ်ရာတွင် လွှများ၊ အခြားစက်ပစ္စည်းကိရိယာများအား စနစ်တကျတပ်ဆင် အသုံးပြုခြင်းမရှိပါက အလုပ်သမားများ မတော်တဆ ဘေးအန္တရာယ်ဖြစ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအတွက် သစ်စက်တည်ထောင်မည့် မြေနေရာသည် စည်ပင်သာယာနယ်နိမိတ်အတွင်း ဖြစ်ရန်လိုအပ်ပြီး၊ သစ်စက်ပစ္စည်းနှင့်ပတ်သက်၍

ဥပဒေ၊ လုပ်ထုံးများနှင့်အညီ စိစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်းနှင့် သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းက ကျင်းပပြုလုပ်သည့် ပြည်တွင်း/ ပြည်ပအိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း၊ ရေရှည်ကုန်ကြမ်းရရှိနိုင်ရေးအတွက် ကုမ္ပဏီအနေဖြင့် သစ်ကုန်ကြမ်းများကို ပြည်ပမှ တင်သွင်းခြင်းဖြင့် လည်း နိုင်ငံပိုင်သစ်တောသယံဇာတ အရင်းအမြစ်များကို ချွေတာနိုင်ပါသဖြင့် CITES ( မျိုးဆက်ပျက်သုဉ်းလုဆဲ တောရိုင်းတိရစ္ဆာန်နှင့်သစ်ပင်ပန်းပင်များ နိုင်ငံတကာ ကုန်သွယ်မှုဆိုင်ရာ ကွန်ဗင်းရှင်း ) မှ တားမြစ်ခြင်းမရှိသည့် သစ်မျိုးများ တင်သွင်း၍လည်း ကုန်ကြမ်းလိုအပ်ချက်အား ဖြည့်ဆည်းနိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Swel Hein Group Company Limited မှ အရည်အသွေးမီ သစ်ခွဲသား၊ တံခါး၊ပါကေးနှင့်ပရိဘောဂများ ထုတ်လုပ်ခြင်းနှင့်ပြည်တွင်း/ပြည်ပ ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်မှုများ ရှောင်ရှားနိုင်ရန် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု ( CSR ) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE ) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ တင်ပြရန်၊

(ဂ) ဆောင်ရွက်ရန်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး/ ပြည်နယ် အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

၁၇/၁၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သစ်လုပ်ငန်း



နောက်ဆက်တွဲ(ဂ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆(၂၉၂၉)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁ ရက်

OPT-5427
2-12-15

သို့

IC
3/12

√မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈.၁၁. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ မ-၂၂၆ / ၂၀၁၅ (၈၈၈)

၁။ Swel Hein Group Company Limited မှ ရာခိုင်နှုန်းပြည့်နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ လားရှိုးခရိုင်၊ လားရှိုးမြို့နယ်၊ နာကွမ်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-ကွင်းပြင်၊ ဦးပိုင်ဝိုင်း-(၁)၊ သုသာန်ကွင်း၊ ဦးပိုင်အမှတ်(၂)တွင် အရည်အသွေးမီ သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်းနှင့် ပြည်တွင်း/ပြည်ပ ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး အရည်အသွေးမီ သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများထုတ်လုပ်ခြင်းနှင့် ပြည်တွင်း/ပြည်ပ ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါ သည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက် ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Swel Hein Group Company Limited မှ တွင် အရည်အသွေးမီ သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်းနှင့် ပြည်တွင်း/ပြည်ပ ဖြန့်ဖြူးခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် တစ်ဖက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁.၁၂.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန